## အပိုဒ်-၁၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၆။ (က) မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျှောက်ကြုံတွေ့သည့်ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင်၊ နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

(ခ) ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ(၁၄)ရက်အတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သို့ ချက်ချင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များ ပျက်ကွက်ခြင်း၊ နှောင့်နှေးကြန့်ကြာခြင်းသည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့်ဖြစ်ပါက ကင်းလွတ်ခွင့် ပြုရမည်။

## ၁၇။ လုပ်ငန်းဆောင်ရွက်သည့်မြေသို့ ပြန်လည်ဝင်ရောက်ခွင့်

၁၇။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သို့ အကြောင်းကြားစာပေးပို့ပြီးနောက် ရက်ပေါင်း ၉၀ (ကိုးဆယ်) အတွင်း လိုက်နာမှုမရှိပါက "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် လုပ်ငန်းဆောင်ရွက် သည့်မြေနှင့် အဆောက်အဦများကို ပြန်လည်ဝင်ရောက် လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ ဝင်ရောက်လက်ရောက်ရယူခြင်းသည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ထံမှရရန်ရှိသော မြေငှားရမ်းခများ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

## အပိုဒ်-၁၈။ အငြင်းပွားမှုဖြေရှင်းခြင်း

၁၈။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်ချက်ကို ခံယူရမည်။

## အပိုဒ်-၁၉။ ပြင်ဆင်ခြင်း

၁၉။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

## အပိုဒ်-၂၀။ စာချုပ်ညှိနှိုင်းဆွေးနွေးခြင်း

၂၀။ ဤပဋိညာဉ်စာချုပ်တွင် မူလကမမျှော်မှန်းထားသော အခြေအနေတစ်ရပ်ရပ်(သို့မဟုတ်) အနေအထား တစ်ရပ်ရပ်ဖြစ်ပေါ်လာပါ၍ ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန် (သို့မဟုတ်) ပြောင်းလဲရန် ပေါ်ပေါက်လာသည့်အခါ နှစ်ဖက်စာချုပ်ဝင်တို့သည် သင့်လျော်သည့်ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ဖြည့်စွက်ခြင်းများ ဆောင်ရွက်နိုင်ရန် သဘောရိုးဖြင့် ညှိနှိုင်းဆွေးနွေးရမည်။

## အပိုဒ်-၂၁။ ပဋိညာဉ်စာချုပ်သက်တမ်းတိုးမြှင့်ခြင်း

၂၁။ ဤပဋိညာဉ်စာချုပ် သက်တမ်းတိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ်သက်တမ်း မကုန်ဆုံးမီ ၆ (ခြောက်) လအတွင်း နှစ်ဖက်ညှိနှိုင်း သဘောတူညီမည့် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်း၊ နှုန်းထားများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့်သာ ပဋိညာဉ်စာချုပ် သက်တမ်းတိုးရန်ဖြစ်သည်။

## အပိုဒ်-၂၂။ ခွင့်ပြုလွှဲအပ်ခြင်း

၂၂။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်လုံးက သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှု စာချုပ်စာတမ်းပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့်ရှိသည်။

## အပိုဒ်-၂၃။ အာမခံထားရှိခြင်း

၂၃။ **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများ ထားရှိဆောင်ရွက်ရမည်။

## အပိုဒ်-၂၄။ အထွေထွေကိစ္စရပ်များ

၂၄။ (က) **တရားမဝင်ခြင်း။** ဤပဋိညာဉ်စာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင်ပေါ်ပေါက်စေကာမူ ဤပဋိညာဉ်စာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝအကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) **ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။** ဤပဋိညာဉ်စာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) ပဋိညာဉ်စာချုပ်၏ အခြားပြဋ္ဌာန်းချက်တစ်စုံတစ်ရာကို ဆက်လက် ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။

ဤပဋိညာဉ်စာချုပ်တွင်ဖော်ပြပါရှိသောအခွင့်အရေး၊ အခွင့်အာဏာ(သို့မဟုတ်) အကျိုးခံစားခွင့် တစ်စုံတစ်ရာကို စာချုပ်တွင် ပါဝင်လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ(သို့မဟုတ်)အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင် ထိုအခွင့်ရေး၊ အခွင့်အာဏာ(သို့မဟုတ်)အကျိုးခံစားခွင့် တစ်ခုတည်းကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာမရောက်စေရ။

(ဂ) **ပစ္စည်းများလွှဲပြောင်းပေးခြင်း။** ဤပဋိညာဉ်စာချုပ် သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က ဆောက်လုပ်ထားသည့်ဆိပ်ခံတံတား၊ အဆောက်အဦများနှင့် ကုန်ကိုင်တွယ်စက်ကရိယာများ အပါအဝင် မရွှေ့မပြောင်းနိုင်သောပစ္စည်းများနှင့် မြေကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ပိုင်ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ ၎င်းအဆောက်အဦများကို အားလုံးကိုသော်လည်းကောင်း၊ တစ်

စိတ်တစ်ဒေသကိုသော်လည်းကောင်း လက်ခံရန်ဆန္ဒမရှိလျှင် ထိုသို့ လက်ခံနိုင်ခြင်းမရှိကြောင်းညွှန်ကြားသည့် အဆောက်အဦများကို"**လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ**" မှ ကုန်ကျစရိတ်ကျခံ၍ လုံးဝဖယ်ရှားပေးရမည်။

**"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် ရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံးကို စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ ၆(ခြောက်) လအတွင်း မိမိ၏စရိတ်ဖြင့်ဖယ်ရှားပေးပြီး၊ အဆိုပါ ပစ္စည်းများကို ပြန်လည်ပိုင်ဆိုင်ခွင့် အခွင့်အရေးရှိစေရမည်။

(ဃ) **အရေးကြီးသောပစ္စည်းများတွေ့ရှိမှု။** "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ငှားရမ်းမြေပေါ်တွင်တူးဖော်ခြင်း(သို့မဟုတ်) ဖောက်ခွဲခြင်းလုပ်ငန်းပြုလုပ်စဉ် အရေးကြီးသောမည်သည့်တွေ့ရှိမှုကိုမဆို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံချက်ချင်းအကြောင်းကြားရမည်။ အရေးကြီးသောပစ္စည်းများ တွေ့ရှိမှုဆိုရာတွင် မြေတူးစဉ်နှင့် ဖောက်ခွဲမှုပြုလုပ်စဉ် တွေ့ရှိရသော အနုပညာ၊ ရှေးဟောင်းပစ္စည်းများ၊ သဘာဝသမိုင်း၊ ဒဂ်ါးများနှင့် သိပ္ပံဆိုင်ရာအရေးပါသောအရာဝတ္ထုများ၊ ရှားပါးပြီး တန်ဖိုးရှိသောပစ္စည်းများနှင့် သဘာဝသယံဇာတ အရင်းအမြစ်များပါဝင်ပြီး အဆိုပါပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများဖြစ်သည်။

**"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** သည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာအစိုးရအဖွဲ့အစည်းသို့တင်ပြ၍ အတည်ပြုချက်ရယူပြီး မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ရယူခွင့် ရှိစေရမည်။

(င) **တစ်စိတ်တစ်ဒေသအဖြစ်မှတ်ယူခြင်း။** ဤပဋိညာဉ်စာချုပ်တွင် ပါဝင်လက်မှတ်ရေးထိုးသူများအကြား ချုပ်ဆိုသည့် မြေငှားစာချုပ်အပါအဝင် နောက်ဆက်တွဲများအားလုံးကို ဤပဋိညာဉ်စာချုပ်၏ တစ်စိတ်တစ်ဒေသအဖြစ် မှတ်ယူရမည်။

(စ) **အကြောင်းကြားစာများ။** ဤပဋိညာဉ်စာချုပ်တွင် အခြားနည်းပြဋ္ဌာန်းထားချက်များမှတစ်ပါး ဤပဋိညာဉ်စာချုပ်အရ လိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာတောင်းခံချက် (သို့မဟုတ်)အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်သော်လည်းကောင်း၊ စာတိုက်မှမှတ်ပုံတင်၍သော်လည်းကောင်း၊ ဖက်(စ်)ဖြင့်သော်လည်းကောင်း ပေးပို့ရမည်။ ဖော်ပြပါအကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှု (ဤမှ နောင်တွင် "အကြောင်းကြားစာ" ဟု ရည်ညွှန်းမည်)

တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်က လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီး ဖြစ်သည်ဟု မှတ်ယူရမည်-

(၁) ဖက်(စ်)ဖြင့် **အကြောင်းကြားစာ** ပေးပို့ပြီးဖြစ်ပါက၊ ဖက်(စ်)နံပါတ်၊ စာမျက်နှာအရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြု ဖော်ပြထားသည့် သတင်းပေးပို့ချက်မှတ်တမ်းကို ပေးပို့သူကလက်ခံရရှိလျှင် အဆိုပါ **အကြောင်းကြားစာ**ကို တရားဝင်ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍**အကြောင်းကြားစာ**ကို လက်ခံမည့်သူ၏လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး) ရက် မြောက်နေ့တွင် စာအိတ်ပေါ်၌ ရေးသားထားသည့် လိပ်စာရှင် ထံသို့ တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

**အပိုဒ်-၂၅။ ဆက်သွယ်ရန် လိပ်စာများ**

၂၅။ ဤပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသားဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်းဖြစ်သည်-

**အမှုဆောင်အရာရှိချုပ်**
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
အမှတ် (၁၀) ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့
ဖက်(စ်)အမှတ်-၂၄၆၇၈၁၊ ၃၉၁၃၅၅

နှင့်

**မန်နေးဂျင်းဒါရိုက်တာ**
Green Alliance Energy Co., Ltd.
အမှတ်(၈)၊ ဓမ္မစေတီလမ်းနှင့်ဗားကရာလမ်းထောင့်၊
စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့
ဖက်(စ်)အမှတ်-

သက်သေထင်ရှားစိမ့်သော်ငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ( )ရက်နေ့၊ -------- လ၊ ၂၀၁၆ ခုနှစ်တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ်စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည် -

| | |
|---|---|
| လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ | လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ(ကိုယ်စား) |
| အမည် - ကျော်မြင့် | အမည် - ဒေါက်တာဇော်မင်းအောင် |
| ရာထူး - အမှုဆောင်အရာရှိချုပ် | ရာထူး - မန်နေဂျင်းဒါရိုက်တာ |
| ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | ဌာန - Green Alliance Energy Co., Ltd. |

သက်သေများ

| | |
|---|---|
| အမည် - | အမည် - |
| ရာထူး - | ရာထူး - |
| ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | ဌာန - Green Alliance Energy Co., Ltd. |

ပူးတွဲ (၁)

# သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးရေးစီမံကိန်း တည်နေရာပြပုံ



ပူးတွဲ (၂)

## စုစုပေါင်းဝင်ငွေ၏ အဓိပ္ပါယ်ဖော်ပြချက်

၁။ စုစုပေါင်းဝင်ငွေ၏ အဓိပ္ပါယ်ဖော်ပြချက် ဆိုသည်မှာ အောက်ပါလုပ်ငန်းများမှ စုစုပေါင်းဝင်ငွေကို ဆိုလိုသည် -

(က) တံတားကပ်ခများ၊

(ခ) တံတားသုံးစွဲခများ၊

(ဂ) ကုန်စည်ကိုင်တွယ်ခများ၊

(ဃ) ကုန်သိုလှောင်ခများ/နှောက်နှေးကြန့်ကြာကြေးများ၊

(င) စက်ပစ္စည်းသုံးစွဲခများ၊

(စ) တံတားသို့ ဆိုက်ကပ်မည့် သင်္ဘောများ၏ လုပ်ငန်းလိုအပ်ချက်အရ ကုမ္ပဏီမှ စီမံခန့်ခွဲခြင်းနှင့် အသုံးအဆောင်များသုံးစွဲခြင်းစသည့် အောက်ပါဝန်ဆောင်မှုလုပ်ငန်းများအတွက်ရရှိသော အခကြေးငွေများ -

(၁) ကုန်တင်ကုန်ချလုပ်ငန်းအတွက် လိုအပ်သောအသုံးအဆောင် ပစ္စည်းကိရိယာများ (Stevedore Gears) ကို ငှားရမ်းပေးခြင်း၊

(၂) သင်္ဘော၏လုံခြုံရေးအတွက်လုံခြုံရေးဝန်ထမ်း (Watchman) အား တာဝန်ချထားပေးခြင်း၊

(၃) သောက်ရေး၊ သုံးရေဖြည့်ဆည်းပေးခြင်း၊

(၄) စက်သုံးဆီဖြည့်ဆည်းပေးခြင်း၊

(၅) Generator ဖြင့် ဓါတ်အားဖြည့်ဆည်းပေးခြင်း၊

(၆) သင်္ဘောကုန်တင်ကုန်ချအတွက် Berthing Meeting မှ သတ်မှတ်ပေးသည့်ကုန်တင်ကုန်ချလုပ်သားဂိုဏ်းအပြင်၊ အရေးပေါ်လိုအပ်ချက်အရ ကုမ္ပဏီမှလုပ်သားဂိုဏ်း အရေအတွက်ကို တိုးချဲ့ပေးခြင်းနှင့် စီမံခန့်ခွဲခြင်း၊

(ဆ) ဝန်ပါဝန်လွတ် ကုန်သေတ္တာများကိုဆိပ်ကမ်းအတွင်းရှိ ကုမ္ပဏီပိုင်ကုန်သေတ္တာလွင်ပြင်တွင် ထိန်းသိမ်းထားရှိခများ၊

(ဇ) အခြားသော ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများမှ ရရှိသည့် ဝင်ငွေများ၊

၂။ ဖော်ပြပါ ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ သတ်မှတ်သည့် ဆိပ်ကမ်းအခွန်အခနှုန်းထားများအတိုင်း တွက်ချက်ကောက်ခံသွားပါမည်။

ပူးတွဲ (၃)

## ရေနံသဘာဝဓါတ်ငွေ့ရည် တင်/ချ ဆိပ်ခံတံတားနှင့် ရေနံသဘာဝဓါတ်ငွေ့ရည် သိုလှောင်ဖြန့်ဖြူးရေး အဆောက်အအုံများ တည်ဆောက်မှုလုပ်ငန်းစီမံကိန်းဖော်ပြချက်

**လုပ်ငန်းစီမံကိန်း**

၁။ ဆိပ်ခံတံတား

(က) ဆိပ်ခံတံတားအလျား ၁၉၀ မီတာ x အကျယ် ၂၅.၅ မီတာ ကို ရေနံသဘာဝဓါတ်ငွေ့ရည် တင်/ချမှုလုပ်ငန်း၏ အလေးဝန်ဒဏ်ခံနိုင်အောင် တည်ဆောက်ပါမည်။

(ခ) ဆိပ်ခံတံတား၏ရေအနက်ကို အနိမ့်ဆုံးရေမျက်နှာပြင်အောက် (၉) မီတာ ရရှိအောင်ဆောင်ရွက်ပါမည်။

(ဂ) ငှားရမ်းသည့်မြေပေါ်ရှိ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က ဆိပ်ခံတံတားနှင့် ဆိပ်ကမ်းအထောက်အကူပြုအဆောက်အအုံများအားလုံးကို ဤပဋိညာဉ်စာချုပ်ချုပ်ဆိုသည့်နေ့မှ စ၍(၃)နှစ်အတွင်းတွင်လည်းကောင်းအပြီးဆောင်ရွက်မည်။

၂။ အဆောက်အဦများ

(က) LPG Storage Tanks Firm, Filling Station, Handling Facilities and Associated Facilities, Office Building, Water Supply and Electric Supply Facilities, များတည်ဆောက်သွားပါမည်။

(ခ) LPG တင်/ချမှုလုပ်ငန်းနှင့် သိုလှောင်ဖြန့်ဖြူးခြင်းလုပ်ငန်းပမာဏ တိုးမြင့်လာသည်နှင့်အမျှ လုပ်ငန်းများကို ပိုမိုသွက်လက်လျှင်မြန်စေရန် လိုအပ်သော အဆောက်အဦများကို တိုးချဲ့တည်ဆောက်သွားပါမည်။



OVERALL MASTER LAYOUT PLAN (TENTATIVE)
LPG PORT TERMINAL
AT THILAWA PLOT (PLOT.22)
Developed by -
GREEN ALLIANCE CO.,LTD.
Access to Road
Main Gate
Emergency Gate
200m
LAND SCAPING
WATER SUPPLY & POWER SUPPLY FACILITIES BLOCK
ADMIN & OPERATION CONTROL OFFICE BLOCK
WELL-FAIR FACILITIES STAFF & WORKMEN REST AND CANTEEN BLOCK
FIRE FIGHTING TRUCK
CONSTRUCTION MAINTENANCE FACILITY BLOCK
58m
70m
50m
30m
170m
753m
50m
100m
200m
25m
TANKER TRANSIT YARD
SECURITY OFFICE
CAR PARKING FOR OFFICE
30 m MAIN PASSAGE
25 m REAR PASSAGE
RESERVED SPACE FOR FUTURE EXPANSION LONG TERM PLAN
OTHER ASSOCIATED FACILITIES BLOCK
OPEN YARD FOR PARKING OF TRUCKS & TRANSPORTERS
SPACE FOR PIPE NETWORK
PLANT
OPERATION AUTO CONTROL ROOM
M & E WORKSHOP
WATER & FOAM TANK
FIRE EXTENGUISHER
OCTANE PUMP HOUSE
DIESEL PUMP HOUSE
RESERVED SPACE
LPG PUMP HOUSE
Area reserved for Water Pond for Emergency Fire Extinguishing
Perimeter Wall along Boundary Line with Surface Drain
28m
20m
285m
45m
723m
100m
20m
200m
25m
50m
35m
30m
25m
2.5m
5m
PLOT (21)
PLOT (23)
RESERVED SPACE FOR FUTURE EXPANSION LONG TERM PLAN
25 m wide Reserved Space for Pipe Network
PHASING
FIRST PHASE
FIRST PHASE
FIRST PHASE
FIRST PHASE
FIRST PHASE
SECOND PHASE
SECOND PHASE
Note :
Details of Blocks as per attached sheets.
Low land area to be reclaimed for long term expansion
47 including decking
Access Pier
TENTATIVE FORESHORE RETAINING WALL LINE
Middle Pier 13.5 m x 10.0 m
3.5m
10m
124 including spacing between Trestle & Access Pier Spacing 2.5 m
Trestle
Quay Apron
25.5m
26m
5m
190 m
Title : GREEN ALLIANCE ENERGY CO.,LTD.
LPG PORT TERMINAL
MASTER LAYOUT PLAN (TENTATIVE)
Design by
C.E
Approval
C.E 16.03.16
File
C D E
Dwg. No.
CAECL
sht
1/1

## ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်မည့်ပမာဏ

၁။ မြို့ပြ လုပ်ငန်းနှင့်သက်ဆိုင်ရာ တည်ဆောက်ရေးလုပ်ငန်း

| | | USD | Kyats |
|---|---|---|---|
| (က) | DWT ၂၀၀၀၀ သင်္ဘောဆိုက်ကပ်နိုင်သည့် ရေနံသဘာဝဓါတ်ငွေ့ရည် တင်/ချ ဆိပ်ခံတံတား | | |
| (ခ) | LPG Storage Tanks Firm | | |
| (ဂ) | Filling Station and Handling Facilities | | |
| (ဃ) | Other Associated Facilities | | |
| (င) | Office Building နှင့် အခြား ဆက်စပ်အဆောက်အအုံ | | |
| (စ) | ရေသန့်၊ လျှပ်စစ်နှင့် ဆက်စပ်လုပ်ငန်းများ | | |
| | **Sub-total** | | |
| | **Total Cost for Building** | | |

၂။ အခြား

ပူးတွဲ - ၁

........................................... BANK

YANGON, MYANMAR

**LETTER OF GUARANTEE**

DATED : - - 2016

REF NO : ...................

TO

MYANMA PORT AUTHORITY
YANGON, MYANMAR

**PERFORMANCE BANK GUARANTEE NO.**......................

In consideration of your having concluded the Contract for the construction, operation and management of **Green Alliance LPG Jetty Project** in Thilawa foreshore area dated ;........ with **Green Alliance Energy Co., Ltd.** for the development of a International LPG Jetty and Associated Utility Building at Thilawa foreshore area and it being a condition of the Contract that a performance guarantee of one percent (1%) of the estimated investment cost of **Green Alliance LPG Jetty Project** in amount of Kyat 257,042,000 be issued in your favour, we ---------------------- Bank) hereby irrevocably and unconditionally guarantee to pay you without delay on your first written demand through (---------------------- Bank) any amount claimed by you up to the extent of Kyat 257,042,000 against your written declaration that **Green Alliance Energy Co., Ltd.** has refuses or failed to execute or perform any of the material terms and conditions of the aforesaid Contract including that the activities pertinent to the construction of a International LPG Jetty and Associated Utility Building under **Green Alliance LPG Jetty Project** shall be operational within 3 (three) years from the date of signing of the Contracts.
This guarantee shall remain valid until 3 (three) years after the date of signing of the Contract.

Signature : ..................
Designation : ................
Bank :........................

# MYANMA FOREIGN TRADE BANK
## YANGON, MYANMAR
## LETTER OF GUARANTEE

DATED : - - 2016

NO : ......................

TO

MYANMA PORT AUTHORITY
YANGON, MYANMAR

**PERFORMANCE BANK GUARANTEE NO.** ......................

In consideration of your having concluded the Contract for the construction, operation and management of **Green Alliance LPG Jetty Project** in Thilawa foreshore area dated ......... with **Green Alliance Energy Co., Ltd.** for the development of a International LPG Jetty and Associated Utility Building at Thilawa foreshore area and it being a condition of the Contract that a performance guarantee of one percent (1%) of the estimated investment cost of **Green Alliance LPG Jetty Project** in amount of United States Dollars 248,720 be issued in your favour, we (------------------------- Bank) hereby irrevocably and unconditionally guarantee to pay you without delay on your first written demand through (------------------------- Bank) any amount claimed by you up to the extent of US$ 248,720 against your written declaration that **Green Alliance Energy Co., Ltd.** has refuses or failed to execute or perform any of the material terms and conditions of the aforesaid Contract including that the activities pertinent to the construction of a International LPG Jetty and Associated Utility Building under **Green Alliance LPG Jetty Project** shall be operational within 3 (three) years from the date of signing of the Contracts.

This guarantee shall remain valid until 3 (three) years after the date of signing of the Contract.

Signature : ..................
Designation : ................
Bank : ......................

ပို့ဆောင်ရေးဝန်ကြီးဌာန

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

စိမ်းလန်းခြင်းအင်အားစုစွမ်းအင်ကုမ္ပဏီလီမိတက်

(Green Alliance Energy Co., Ltd.)

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊

သီလဝါဆိပ်ကမ်းဒေသတွင်

ရေနံသဘာဝ ဓါတ်ငွေ့ရည်တင်/ချ ဆိပ်ခံတံတားနှင့်

ရေနံသဘာဝ ဓါတ်ငွေ့ရည်သိုလှောင်ဖြန့်ဖြူးရေး

အဆောက်အအုံများ တည်ဆောက်ပြီး

ဝန်ဆောင်မှုလုပ်ငန်းကို B.O.T စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

မြေငှားစာချုပ် (မူကြမ်း)

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊
သီလဝါဆိပ်ကမ်းဒေသ၊မြေကွက်အမှတ် (၂၂) တွင် ရေနံသဘာဝဓါတ်ငွေ့ရည် တင်/ချ
ဆိပ်ခံတံတားနှင့် ရေနံသဘာဝဓါတ်ငွေ့ရည် သိုလှောင်ဖြန့်ဖြူးရေး အဆောက်အအုံများ
တည်ဆောက်ပြီး B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်နှင့် လွှဲပြောင်းရန်အတွက်
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Green Alliance Energy Co., Ltd. တို့အကြား
ချုပ်ဆိုသည့်

# မြေငှားစာချုပ် (မူကြမ်း)

ဤ မြေငှားစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တွင် ၂၀၁၆ ခုနှစ်၊ မတ်လ ( ) ရက်နေ့၌

ဦးကျော်မြင့်၊ အမှုဆောင်အရာရှိချုပ် ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာ နိုင်ငံတော်၊ ပို့ဆောင်ရေးဝန်ကြီးဌာန လက်အောက်ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် (ဤမှနောင် တွင် "မြေငှားရမ်းသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်

နှင့်

ဒေါက်တာဇော်မင်းအောင်၊ မန်နေဂျင်းဒါရိုက်တာ၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်၊ ၇/ရတန (နိုင်)၀၀၉၄၉၁ ကိုယ်စားပြုသော ရန်ကုန်မြို့၊ စမ်းချောင်းမြို့နယ်၊ ဓမ္မစေတီလမ်းနှင့် ဗားကရာလမ်းထောင့်၊ အမှတ်(၈) တွင်ရှိ Green Alliance Energy Co., Ltd. (ဤမှနောင်တွင် "မြေငှားချထားခြင်းခံရသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရ သော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

(က) "မြေငှားရမ်းသူ" သည် "ငှားရမ်းသည့်မြေ" ကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်း ကိုယ်စားပြု အာမခံချက်ပေးသဖြင့် လည်းကောင်း၊

(ခ) "မြေငှားရမ်းသူ" က ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ ပူးတွဲ (၁) တွင် အနီရောင်ဖြင့် ဘောင်ခတ်ထားသော မြေကွက်အမှတ် (၂၂) ဧရိယာ (၃၇.၀၆) ဧကအကျယ်အဝန်းရှိ မြေနေရာ

(နောင်တွင် "ငှားရမ်းသည့်မြေ" ဟုရည်ညွှန်းခေါ်ဆိုရမည်)ကို ငှားရမ်းလိုသော ဆန္ဒရှိပြီး၊ "မြေငှားချထားခြင်းခံရသူ" က အောက်တွင် ဆက်လက်ဖော်ပြမည့် စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ "ငှားရမ်းသည့်မြေ" တွင် ရေနံသဘာဝဓါတ်ငွေ့ရည်တင်/ချ ဆိပ်ခံတံတားနှင့် ရေနံသဘာဝဓါတ်ငွေ့ရည်သိုလှောင်ဖြန့်ဖြူးရေး အထောက်အကူပြုအဆောက်အအုံများ (နောင်တွင် "Green Alliance LPG Jetty Project" ဟုရည်ညွှန်းခေါ်ဆိုမည်)ကို တည်ဆောက်၍ BOT စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ရန်အတွက် အငှားရယူလိုသဖြင့် လည်းကောင်း၊

ဤမြေငှားစာချုပ်ကို နှစ်ဦးနှစ်ဖက် အကြေအလည် ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူချုပ်ဆိုကြပါသည် -

၁။ အောက်ဖော်ပြပါအတိုင်း မြေအသုံးချမှုပရီမီယံကြေးနှင့် လစဉ်မြေငှားခကိုပေးချေရန် သဘောတူညီချက်ကိုထောက်ထား၍ "မြေငှားရမ်းသူ" သည် "မြေငှားချထားခြင်းခံရသူ" သို့ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်ချုပ်ဆိုသည့် မြေငှားစာချုပ်ကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှနှစ်ပေါင်း ၅၀ (ငါးဆယ်) နှစ်ခွင့်ပြုရန် သဘောတူညီသည်-

(က) မြေအသုံးချမှုပရီမီယံ။ "ငှားရမ်းသည့်မြေ" ကို မြေငှားစာချုပ်ပါစည်းကမ်းချက်များနှင့်အညီ အငှားချထားမှုအတွက် မြေတစ်ဧကလျှင်ငွေကျပ် ၁၅,၀၀၀,၀၀၀ (ကျပ် တစ်ဆယ့်ငါးသန်း) နှုန်းဖြင့် စုစုပေါင်းမြေ ၃၇.၀၆ ဧက အတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် ငွေကျပ် ၅၅၅,၉၀၀,၀၀၀ (ကျပ် ငါးရာငါးဆယ်ငါးသန်းကိုးသိန်းတိတိ) ကို အရစ်(၂)ရစ်ခွဲ၍ "မြေငှားချထားခြင်းခံရသူ" က "မြေငှားရမ်းသူ" ထံ အောက်ပါအတိုင်း ပေးသွင်းရမည် -

(၁) ပထမအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ငွေကျပ် ၂၇၇,၉၅၀,၀၀၀ (ကျပ် နှစ်ရာခုနှစ်ဆယ်ခုနှစ်သန်း ကိုးသိန်းငါးသောင်း တိတိ) ကို ဤစာချုပ်လက်မှတ်ရေးထိုးပြီး ရက်ပေါင်း (၃၀) အတွင်းပေးချေရမည်။

(၂) ဒုတိယအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ငွေကျပ် ၂၇၇,၉၅၀,၀၀၀ (ကျပ် နှစ်ရာခုနှစ်ဆယ်ခုနှစ်သန်း ကိုးသိန်းငါးသောင်း တိတိ) ကို ဤစာချုပ်လက်မှတ်ရေးထိုးပြီး တစ်နှစ်အတွင်း ပေးချေရမည်။

(ခ) **မြေငှားခများ။** “မြေငှားချထားခြင်းခံရသူ”သည်၊ ရေနံသဘာဝဓါတ်ငွေ့ရည်တင်/ချဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ရန်သတ်မှတ်ထားသော တည်ဆောက်ရေးကာလစေ့ရောက်သည့်နေ့ (သို့မဟုတ်) ရေနံသဘာဝဓါတ်ငွေ့ရည်တင်/ချ လုပ်ငန်းများ စတင်ဆောင်ရွက်သည့်နေ့ ထိုနေ့ (၂) ရပ်အနက်စောရာ နေ့ရက်မှစ၍ အောက်တွင်ဖော်ပြထားသော နှုန်းထားများအတိုင်း လစဉ်မြေငှားရမ်းခအဖြစ် ငွေကျပ် ၂၅,၀၂၀,၆၂၂.၀၀ (ကျပ်နှစ်ဆယ်ငါးသန်းနှစ်သောင်းတစ်ထောင်ခြောက်ရာ နှစ်ဆယ်နှစ် တိတိ) ကို အင်္ဂလိပ်လဆန်း ၇(ခုနှစ်) ရက်မတိုင်မီ “မြေငှားရမ်းသူ” သို့ ပေးသွင်းရမည်။ ပထမလအတွက် မြေငှားရမ်းခ စတင်ပေးဆောင်ရမည့် အစီအစဉ်ကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်ရမည်။

(၁) ရေနံသဘာဝဓါတ်ငွေ့ရည်တင်/ချ ဆိပ်ခံ တံတားမြေနေရာအတွက်လစဉ်မြေငှား ရမ်းခ(၇၇,၇၃၅ စ/မီတာ = ၉. ၂၃ ဧက x ကျပ် ၅၄၀,၅၄၀. ၅၄) — ကျပ် ၄,၉၈၉,၁၈၉. ၂၀

(၂) ကျောထောက်နောက်ခံမြေအတွက် လစဉ် မြေငှားရမ်းခ (၃၇. ၀၆ ဧက x ကျပ် ၅၄၀,၅၄၀. ၅၄) — ကျပ် ၂၀,၀၃၂,၄၃၂. ၄၁

| | |
|---|---|
| | ကျပ် ၂၅,၀၂၀,၆၂၀. ၆၁ |
| ဆိုကျပ် - | ၂၅,၀၂၀,၆၂၂. ၀၀ |

(ဂ) အထက်ပါ သတ်မှတ်ချက်အတိုင်း မြေအသုံးချမှုပရီမီယံကြေးကိုလည်းကောင်း၊ လစဉ်မြေငှားရမ်းခကိုလည်းကောင်း ပေးဆောင်ရန်ပျက်ကွက်ပါက ဤစာချုပ်၏ အပိုဒ် ၁၃ (ခ) အရ စာချုပ်ကို ရပ်စဲနိုင်သည်။

၂။ ဤမြေငှားစာချုပ်သည် နှစ်ဖက်စာချုပ်ဝင်များ လက်မှတ်ရေးထိုးသည့်နေ့မှ စတင်အကျိုးသက်ရောက်စေရမည်။

၃။ “မြေငှားချထားခြင်းခံရသူ” သည် “မြေငှားရမ်းသူ” ထံသို့ အောက်ပါအတိုင်း ခံဝန်ကတိပြုသည် -

(က) "ငှားရမ်းသည့်မြေ" အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း ထပ်ဆင့်အငှားချထားခြင်း၊ ပေါင်နှံခြင်းမပြုရန်၊

(ခ) တည်ဆောက်မည့် ဆိပ်ခံတံတားနှင့် စက်ကရိယာများအတွက် ဆက်နွယ်သည့် ရင်းနှီးမြှုပ်နှံမည့် ကုန်ကျစရိတ်အားလုံးကို ကျခံရန်၊

(ဂ) "ငှားရမ်းသည့်မြေ"နေရာသို့ "မြေငှားရမ်းသူ" ၏ ကိုယ်စား တာဝန်ပေးအပ်ခြင်း ခံရသူများအား ၎င်းတို့၏ လုပ်ငန်းတာဝန်များကို လုပ်ဆောင်ရန်အလို့ငှာ ဝင်ရောက်ခွင့်ပြုရန်၊

(ဃ) "ငှားရမ်းသည့်မြေ" (သို့မဟုတ်)၎င်း၏ အစိတ်အပိုင်းပေါ်တွင်အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများ အားလုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများနှင့် အညီအညွတ်ဖြစ်ရန်၊

(င) "ငှားရမ်းသည့်မြေ" (သို့မဟုတ်) ၎င်း၏ အစိတ်အပိုင်းပေါ်တွင် ကျသင့်မည့် လျှပ်စစ်မီး၊ ရေနှင့် စည်ပင်သာယာခွန်များအားလုံးကို ပေးချေရန်၊

(စ) ၂၀၁၅ ခုနှစ်၊ ဧပြီလ(၉)ရက်နေ့က ပြဋ္ဌာန်းခဲ့သော မြန်မာ့ဆိပ်ကမ်းအာဏာပိုင် ဥပဒေနှင့် ဆက်လက်ပြဋ္ဌာန်းမည့် နည်းဥပဒေများ၊ "မြေငှားရမ်းသူ" က အခါအားလျော်စွာထုတ်ပြန်သည့် အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရန်။

(ဆ) လုပ်ငန်းလုပ်ဆောင်နိုင်ရန်အတွက် ငှားရမ်းမြေနှင့်ပတ်သက်သည့် လျော်ကြေး၊ နစ်နာကြေး၊ ပြောင်းရွှေ့နေရာချထား ပေးရေးစသည့် ကိစ္စရပ်များကို "မြေငှားချထားခြင်းခံရသူ" က အကုန်ကျခံ၍ တာဝန်ယူဆောင်ရွက်ပေးရန်။

၄။ "မြေငှားရမ်းသူ" သည် "မြေငှားချထားခြင်းခံရသူ" သို့ အောက်ပါအတိုင်း ခံဝန်ကတိပြုသည် -

(က) "မြေငှားရမ်းသူ" သည် "ငှားရမ်းသည့်မြေ" အား လက်ရောက် ပေးအပ်ငှားရမ်းရမည်၊

(ခ) "မြေငှားချထားခြင်းခံရသူ" သည် "ငှားရမ်းသည့်မြေ" သို့ ရည်မှန်းထားသည့် လုပ်ငန်းတာဝန်နှင့် သင့်မြတ်လျော်ကန်သော အသုံးအဆောင်များ ဆောက်လုပ်ရန်အတွက် ငြိမ်သက်စွာနှင့် အေးငြိမ်းစွာ ဝင်ရောက်နိုင်ခွင့်ပြုရမည်။ သို့ရာတွင်

ၚင်းအသုံးအဆောင်များ၏ ဒီဇိုင်းများကို "မြေငှားရမ်းသူ" ၏ အတည်ပြုချက် ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုရမည်၊

(ဂ) "မြေငှားချထားခြင်းခံရသူ" သည် မြေငှားစာချုပ် သက်တမ်းကာလအတွင်း မည်သည့်အနှောက်အယှက်၊ အဟန့်အတားမှမရှိဘဲ၊ "မြေငှားရမ်းသူ"၏ ယုံမှတ်အပ်နှံခံရသူအနေဖြင့် "ငှားရမ်းသည့်မြေ" ကို ငြိမ်သက်စွာ လက်ဝယ် ရယူထားနိုင်ခွင့်ရှိစေရမည်၊

(ဃ) "မြေငှားရမ်းသူ" သည် "ငှားရမ်းသည့်မြေ"အတွက် မြေခွန်ကို ပေးဆောင်ရမည်၊

၅။ "မြေငှားချထားခြင်းခံရသူ" သည် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးမှုကြောင့် ပေါ်ပေါက်လာသော တံဆိပ်ခေါင်းခွန်ကို ပေးချေရန်အတွက်လည်းကောင်း၊ မြေငှားစာချုပ်၏ ရည်ရွယ်ချက်ကို အကောင်အထည်ဖော်ခြင်း၊ အဆောက်အအုံများ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ခြင်းတို့ကြောင့် ပေါ်ပေါက်လာသော အခွန်အခများကို ပေးချေရန်အတွက် လည်းကောင်း တာဝန်ရှိသည်။

၆။ "မြေငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" ၏ တရားဝင်စာဖြင့် ခွင့်ပြုချက်မရရှိဘဲ ဤမြေငှားစာချုပ်၏ ရည်ရွယ်ချက်တစ်စုံတစ်ရာကို ပြောင်းလဲခြင်း (သို့မဟုတ်)တည်ဆောက်ထားသောအဆောက်အအုံများကို ပြုပြင်ပြောင်းလဲခြင်းမပြုရန် သဘောတူပါသည်။

၇။ "မြေငှားချထားခြင်းခံရသူ" သည် ငှားရမ်းမြေပေါ်တွင် တူးဖော်ခြင်း(သို့မဟုတ်)ဖောက်ခွဲခြင်းလုပ်ငန်းပြုလုပ်စဉ် အရေးကြီးသောမည်သည့်တွေ့ရှိမှုကိုမဆို "မြေငှားရမ်းသူ" ထံ ချက်ချင်း အကြောင်းကြားရမည်။ အရေးကြီးသောပစ္စည်းများ တွေ့ရှိမှုဆိုရာတွင် မြေတူးစဉ်နှင့် ဖောက်ခွဲမှုပြုလုပ်စဉ် တွေ့ရှိရသော အနုပညာ၊ ရှေးဟောင်းပစ္စည်းများ၊ သဘာဝသမိုင်း၊ ဒင်္ဂါးများနှင့် သိပ္ပံဆိုင်ရာအရေးပါသော အရာဝတ္ထုများ၊ ရှားပါးပြီးတန်ဖိုးရှိသော ပစ္စည်းများနှင့် သဘာဝသယံဇာတအရင်းအမြစ်များပါဝင်ပြီး အဆိုပါပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများဖြစ်ပြီး ၎င်း၏ သဘောအတိုင်း ဆောင်ရွက်နိုင်ခွင့်ရှိသည်။

"မြေငှားရမ်းသူ" သည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာအစိုးရအဖွဲ့အစည်းသို့ တင်ပြ၍ အတည်ပြုချက်ရယူပြီး မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ရယူခွင့် ရှိစေရမည်။

၈။ "မြေငှားချထားခြင်းခံရသူ" သည် ဆောက်လုပ်ထားသော အဆောက်အအုံများနှင့် ၎င်းတို့၏ ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့် ညစ်ညမ်းမှုတို့မှ ကာကွယ်ရန်အတွက် လိုအပ်သော ကြိုတင်ပြင်ဆင်မှုများကို ၎င်း၏စရိတ်ဖြင့် ကျခံဆောင်ရွက်ရမည်။ ထို့အပြင် "မြေငှားချထားခြင်းခံရသူ" အနေဖြင့် "ငှားရမ်းသည့်မြေ" (သို့မဟုတ်)၎င်း၏ အစိတ်

အပိုင်းပေါ်တွင် ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေး တောင်းဆိုမှုကိုမဆို "မြေငှားရမ်းသူ" အပေါ်တွင် တာဝန်မရှိစေရ။

၉။ "မြေငှားချထားခြင်းခံရသူ" သည် ဤမြေငှားစာချုပ်၏ စည်းမျဉ်းစည်းကမ်းများကို လိုက်နာရန်ပျက်ကွက်ပါက၊ ထိုသို့ပျက်ကွက်မှုအတွက် "မြေငှားရမ်းသူ" က ထုတ်ပြန်သော အကြောင်းကြားစာရပြီး ရက်ပေါင်း ၉၀(ကိုးဆယ်)အတွင်း ပျက်ကွက်မှုကိုပြန်လည်၍မှန်အောင် ပြင်ဆင်ခြင်းမပြုလျှင်၊ "မြေငှားရမ်းသူ"သည် ဤမြေငှားစာချုပ်ပါ "ငှားရမ်းသည့်မြေ" အပေါ် ပြန်လည်ဝင်ရောက်ခွင့်၊ မြေအားလုံးကို ပြန်လည်သိမ်းယူခွင့်ရှိသည်။ ထိုသို့ သိမ်းယူချိန်မှစ၍ မြေငှားရမ်းမှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ ရပ်စဲ၊ အဆုံးသတ်ပြီးဖြစ်ရမည်။ မြေသို့ပြန်လည်ဝင်ရောက်သည့် အခွင့်အရေးများသည် ဤမြေငှားစာချုပ်ပါ "မြေငှားရမ်းသူ" က "မြေငှားချထားခြင်းခံရသူ" ထံမှ ရရှိမည့်အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

၁၀။ (က) ဤမြေငှားစာချုပ် သက်တမ်းကာလအတွင်း မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "မြေငှားချထားခြင်းခံရသူ"သည် "မြေငှားရမ်းသူ" သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့သည့်ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင်၊ နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များကို ဆိုလိုသည်၊

(ခ) ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ(၁၄)ရက်အတွင်း "မြေငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" သို့ ချက်ချင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။ "မြေငှားရမ်းသူ" က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး၊ မြေအသုံးချခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်၊

၁၁။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်ချက်ကို ခံယူရမည်။

၁၂။ ဤမြေငှားစာချုပ်တွင် မူလက မမျှော်မှန်းထားသော အခြေအနေတစ်ရပ်ရပ် (သို့မဟုတ်) အနေအထားတစ်ရပ်ရပ် ဖြစ်ပေါ်လာပါ၍ ဤမြေငှားစာချုပ်ကို ပြင်ဆင်ရန် (သို့မဟုတ်) ပြောင်းလဲရန်ပေါ်ပေါက်လာသည့်အခါ နှစ်ဖက်စာချုပ်ဝင်တို့သည် သင့်လျော်သည့်ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ဖြည့်စွက်ခြင်းများဆောင်ရွက်နိုင်ရန် သဘောရိုးဖြင့် ညှိနှိုင်းဆွေးနွေးရမည်။

၁၃။ ဤမြေငှားစာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရပ်စဲနိုင်သည်-

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) ဤစာချုပ်ပါ တာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်ကဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊ အဆိုပါပျက်ကွက်မှုအတွက် ပျက်ကွက်ခြင်းမရှိသည့် စာချုပ်ဝင်မှကုစားပေးရန် အကြောင်းကြားစာပေးပို့သည့်နေ့မှ ရက်ပေါင်း ၉၀ (ကိုးဆယ်) အတွင်းပျက်ကွက်သူက ကုစားပေးရန်ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းလည်းမပြုနိုင်သော မလွန်ဆန်နိုင်သော ဖြစ်ရပ်များသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း၊

(င) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် မြေငှားစာချုပ်ကို ရပ်စဲခြင်း၊

(စ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

၁၄။ ဤမြေငှားစာချုပ်တွင် မျှော်မှန်းမထားသောအခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် မြေငှားစာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြေငှားစာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီနိုင်းကြပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထို့သို့ပြင်ဆင်ချက်များကို ဤမြေငှားစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

၁၅။ မြေငှားစာချုပ်ဝင် တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများအရဖွဲ့စည်း၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော

တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၎င်းတွင် ဤမြေငှားစာချုပ်ကိုချုပ်ဆိုရန် အလို့ငှာ လုပ်ပိုင်ခွင့်၊ အာဏာ၊ ခိုင်မာသော ဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူဖြစ်ကြောင်း ကိုယ်စားပြု အာမခံချက်ပေးပါသည်။

၁၆။ ဤမြေငှားစာချုပ်ကို ဆောင်ရွက်ရန်နှင့် အကောင်အထည်ဖော်ရန် အလို့ငှာ ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၏ သက်ဆိုင်ရာ အစိုးရအာဏာပိုင်များထံမှ လိုအပ်သော သဘောတူ ခွင့်ပြုချက်များ ရရှိမှုပေါ်မူတည်သည်။

၁၇။ ဤမြေငှားစာချုပ်ဝင်များသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေ များ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ကျင့်ထုံးများနှင့်အညီ ဤမြေငှား စာချုပ်ကြောင့်ဖြစ်ပေါ်လာသော ဆောင်ရွက်ရန်တာဝန်များကို အကောင်အထည်ဖော် ဆောင် ရွက်ရမည်။

၁၈။ ဤမြေငှားစာချုပ်သည် ၎င်းမြေငှားစာချုပ်ကို စာချုပ်ဝင်နှစ်ဦး နှစ်ဖက်လက်မှတ်ရေးထိုး သည့်နေ့မှနှစ်ပေါင်း ၅၀ (ငါးဆယ်) စေ့ရောက်ချိန်တွင် သက်တမ်းကုန်ဆုံးမည်ဖြစ်သည်။

၁၉။ ဤမြေငှားစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက်တွင် ဆက်လက် မြေငှားရမ်းမည်ဆိုပါက မြေငှားစာချုပ်သက်တမ်းမကုန်ဆုံးမီ ၆ (ခြောက်) လ အတွင်း ကြိုတင်ညှိနှိုင်း၍ မြေငှားစာချုပ် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်းစည်းကမ်း၊ နှုန်းထားများနှင့်အညီ မြေငှားစာချုပ် သက်တမ်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ဖြင့် သက်တမ်း တစ်ကြိမ်လျှင် (၁၀) နှစ်နှင့် နောက်ထပ် (၂) ကြိမ်သက်တမ်းတိုးမြှင့်ခွင့်ပြုနိုင်သည်။

၂၀။ ဤမြေငှားစာချုပ် သက်တမ်းတိုးမြှင့်ခြင်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

၂၁။ ဤမြေငှားစာချုပ်သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင် "မြေငှားချထားခြင်း ခံရသူ" က ဆောက်လုပ်ထားသည့် ဆိပ်ခံတံတား၊ အဆောက်အဦများ၊ မြေနှင့် ကုန်ကိုင်တွယ် စက်ကရိယာများအပါအဝင် မရွှေ့မပြောင်းနိုင်သည့်ပစ္စည်းများအားလုံးကို ကောင်းမွန်စွာ ထိန်းသိမ်းထားသောအနေအထားအတိုင်းအဖိုးစားနားမပါဘဲ "မြေငှားရမ်းသူ" ပိုင်ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍ "မြေငှားရမ်းသူ" မှ ၎င်းအဆောက်အဦများအားလုံးကိုသော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း လက်ခံရန်ဆန္ဒမရှိလျှင် ထိုသို့ လက်ခံ နိုင်ခြင်းမရှိကြောင်း ညွှန်ကြားသည့် အဆောက်အဦများကို "မြေငှားချထားခြင်းခံရသူ" ၏ ကုန်ကျစရိတ်ဖြင့် လုံးဝဖယ်ရှားပေးရမည်။

"မြေငှားချထားခြင်းခံရသူ" သည် ရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံးကို စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ ၆(ခြောက်)လအတွင်း မိမိ၏ စရိတ်ဖြင့် ဖယ်ရှားပေးပြီး၊ အဆိုပါ ပစ္စည်းများကို ပြန်လည်ပိုင်ဆိုင်ခွင့် အခွင့်အရေးရှိစေရမည်။

၂၂။ ဤမြေငှားစာချုပ်ဝင်များအကြား စာဖြင့်ရေးသားဆက်သွယ်ရန်လိပ်စာမှာ အောက်ပါအတိုင်းဖြစ်သည်-

အမှုဆောင်အရာရှိချုပ်
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
အမှတ်(၁၀)၊ ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။
ဖက်(စ်)အမှတ် - ၂၄၆၇၈၁

နှင့်

မန်နေဂျင်းဒါရိုက်တာ
Green Alliance Energy Co., Ltd.
အမှတ်(၈)၊ ဓမ္မစေတီလမ်းနှင့် ဗားကရာလမ်းထောင့်၊ စမ်းချောင်းမြို့နယ်၊
ရန်ကုန်မြို့။
ဖက်(စ်)အမှတ် -

သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ( ) ရက်နေ့၊ မတ်လ၊ ၂၀၁၆ ခုနှစ်တွင် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

| မြေငှားရမ်းသူ | မြေငှားချထားခြင်းခံရသူ (ကိုယ်စား) |
|---|---|
| ကျော်မြင့် | ဒေါက်တာဇော်မင်းအောင် |
| အမှုဆောင်အရာရှိချုပ် | မန်နေဂျင်းဒါရိုက်တာ |
| မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | Green Alliance Energy Co., Ltd. |

အသိသက်သေများ

| | |
|---|---|
| အမည် - | အမည် - |
| ရာထူး - | ရာထူး - |
| ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | ဌာန - Green Alliance Energy Co., Ltd. |

ပုံတွဲ (၁)

# သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးရေးစီမံကိန်း တည်နေရာပြပုံ

